ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | ရတနာ့ခုကုမ္ပဏီ လီမိတက် | မြန်မာ့ရေနံ ဓာတုဗေဒလုပ်ငန်းနှင့် အကျိုးတူပူးပေါင်းကာ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း | (၂၂/၂၀၁၇) (၄-၉-၂၀၁၇) | - လုပ်ငန်းဆောင်ရွက်မည့်ဆိုင်နေရာနှင့် စက်ရုံနေရာများ၏ သက်ဆိုင်ရာမြေစာရင်းဦးစီးဌာနမှ ရေးဆွဲထားသည့် တရားဝင် မြေတိုင်းမြေပုံနှင့် Layout Plan ပူးတွဲပေးရန်။<br>- အလုပ်သမားများ လွှဲပြောင်းခန့်ထားမှုနှင့် ပတ်သက်၍ နောက်ဆုံးအခြေအနေအား တင်ပြပေးရန်။ | ဆောင်ရွက်ပြီး<br><br>ဆောင်ရွက်ပြီး | အလံ(က)<br><br>အလံ(ခ) |

ကုမ္ပဏီအမည် - ရတနာစုကုမ္ပဏီလီမိတက်

လုပ်ငန်း - မြန်မာ့ ရေနံဓာတုဗေဒ လုပ်ငန်းနှင့် အကျိုးတူပူးပေါင်းကာ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ် ဖြန့်ဖြူးရောင်းချ ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၄-၈-၂၀၁၇ | | |
| ၂ | သဘောထား မှတ်ချက် တောင်းခံခြင်း | | | |
| | (က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၇-၉-၂၀၁၇ | ၁၂-၉-၂၀၁၇ | ၄ ရက် |
| ၃ | PAT (၂၂/၂၀၁၇) သို့ တင်ပြခြင်း | ၄-၉-၂၀၁၇ | | |
| ၄ | PAT အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၁၂-၉-၂၀၁၇ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြလာခြင်း | ၁၂-၉-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၁၃-၉-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၂၁ ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ရတနာစု ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း |
| လုပ်ငန်းအမျိုးအစား | - | ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင်၊ မြန်မာ့ရေနံဓာတ်ငွေ့စက်ရုံ(ညောင်တုန်း)၊ အလုံအရောင်းဆိုင်၊ အင်းစိန်အရောင်းဆိုင်၊ မြောက်ဒဂုံအရောင်းဆိုင်၊ မှော်ဘီအရောင်းဆိုင် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၃၀၀၀ သန်း |
| ထုတ်လုပ်မည့်စနစ် | - | ပြည်တွင်း ၁၀၀% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၃၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | ကျပ် ၃၉.၀၀ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၂,၀၀၅.၅၀ သန်း | ကျပ် ၁,၈၅၀.၀၈ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၆,၁၃၂.၁၆ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၅.၁၆ သန်း<br>တစ်နှစ် ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ်လေးဆယ့်ရှစ်သိန်း)ကျော်ပါက အခွန်ပေးရမည့် ပြည်တွင်း ဝန်ထမ်း ၄ ဦး |
| ၈ | CSR (၅%) | | ကျပ် ၇၇၁.၁၁၄ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၂၃၆ ဦး<br>ပြည်တွင်း လုပ်သား ၂၃၆ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျှော့ချရေးကိုအထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၂,၀၄၇.၈၆ သန်း** | **ကျပ် ၈,၇၅၉.၇၁၄ သန်း** |
| | | ၁း၄ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/ခ-၀၀၅/၂၀၁၇( ၄၂၅ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၇၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရတနာစုကုမ္ပဏီလီမိတက်မှ မြန်မာ့ ရေနံဓာတုဗေဒလုပ်ငန်းနှင့် အကျိုးတူပူးပေါင်းကာ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရတနာစုကုမ္ပဏီလီမိတက်မှ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင် ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့ကို ငှားရမ်းပြီး အကျိုးတူပူးပေါင်း၍ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါ သည်။

၂။ မြန်မာ့ရေနံ ဓာတုဗေဒလုပ်ငန်းနှင့် ရတနာစု ကုမ္ပဏီလီမိတက်တို့အကြား ကျွန်းချောင်းရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံ ဓာတ်ငွေ့ရည်စက်ရုံ မြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွ ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင် (၄)ဆိုင် တို့ကို ငှားရမ်းခြင်း၊ စက်ရုံလည်ပတ် ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူစာချုပ် (မူကြမ်း) ပူးတွဲတင်ပြထားပါသည်။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၄ ရက် နေ့ရက်စွဲပါ တင်ပြစာတွင် ပါဝင်သည့် စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) ရတနာစု ကုမ္ပဏီလီမိတက်မှ ကနဦး ရင်းနှီး မြှုပ်နှံမှု အဖြစ် ပထမ (၅)နှစ် အတွင်း ကျပ်သန်း ၂၀၀၀ နှင့် လုပ်ငန်းလည်ပတ်ဆောင်ရွက်ရန်အတွက် လိုအပ်သည့် လုပ်ငန်းလည်ပတ်ရန်ပုံငွေ ကျပ်သန်း ၁၀၀၀ စုစုပေါင်း ကျပ်သန်း ၃၀၀၀ ဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) စာချုပ် သက်တမ်းသည် စာချုပ်အကျိုး သက်ရောက်သည့်နေ့မှစ၍ နှစ် ၃၀ ဖြစ်ပြီး၊ စာချုပ်သက်တမ်း မကုန်မီ ဖလကြိုတင်၍ ဆက်လက်ငှားရမ်းလိုကြောင်း တင်ပြလာပါက တစ်ကြိမ်လျှင် ၅ နှစ်ဖြင့် နှစ်ကြိမ် သက်တမ်းတိုးမြှင့် ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

(ဂ) စက်ရုံငှားရမ်းခအနေဖြင့် စက်ရုံလည်ပတ်ပါက ကျပ် သန်း ၃၂၀ နှင့် စက်ရုံမလည်ပတ်ပါက တစ်နှစ်လျှင် ကျပ်သန်း ၂၀ ရရှိမည်ဖြစ်ပြီး ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်များ ငှားရမ်းခအနေဖြင့် အရောင်းဆိုင် (၁) ဆိုင် တစ်နှစ်လျှင် ကျပ်သန်း ၂၀စီ ဖြင့် အရောင်းဆိုင်(၄)ဆိုင်အတွက် ကျပ်သန်း ၈၀ ကို နှစ်စဉ်ရရှိမည် ဖြစ်ပြီး ငှားရမ်းခစုစုပေါင်းအနေဖြင့် စက်လည်ပတ်ပါက တစ်နှစ်လျှင် ကျပ်သန်း ၄၀၀ နှင့် စက်ရုံ မလည်ပတ်ပါက ကျပ်သန်း ၁၀၀ တို့ကို မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ နှစ်ရှည်ရရှိမည်ဖြစ်ပါသည်။

(ဃ) ရေနံဓာတ်ငွေ့ရည် ချက်လုပ်၊ သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းမှ ရရှိသည့် အကျိုး အမြတ်မှ ငှားရမ်းခများနှင့် အမှန်တကယ် လုပ်ငန်း ဆောင်ရွက် ကုန်ကျစရိတ်များကို နှုတ်ပယ်၍ ကျန်အသားတင် အကျိုးအမြတ်၏ ၅၁% အား မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ ခွဲဝေရရှိမည်ဖြစ်ပါသည်။

(င) ဝန်ထမ်းများနှင့်စပ်လျဉ်း၍ တည်ဆဲနိုင်ငံ့ဝန်ထမ်းဥပဒေ၊ နည်းဥပဒေများနှင့်အညီ ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်ပြီး တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ အလုပ်ရှင်၊ အလုပ်သမားစာချုပ်များကို သီးခြားချုပ်ဆိုဆောင်ရွက်ရမည်ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ သက်တမ်းကာလမှာ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် သဘောတူစာချုပ်အရ နှစ် ၃၀(သက်တမ်းတိုး ၅ နှစ် နှစ်ကြိမ်) ဖြစ်ပြီး လုပ်ငန်းတည်ဆောက်မှုကာလမှာ ၂နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ကျပ် သန်း ၃,၀၀၀ ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၁,၀၀၀.၀၀ |
| စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၂၀၀.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၁,၃၀၀.၀၀ |
| အခြား | ၅၀၀.၀၀ |
| **စုစုပေါင်း** | **၃,၀၀၀.၀၀** |

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၃၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၄၅,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၄၃၀,၀၀၀ ကျပ်ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ပျမ်းမျှတစ်နှစ် ထုတ်လုပ်မည့် ရေနံဓာတ်ငွေ့ရည်များ၏ ပမာဏနှင့် ရောင်းချနိုင်မည့် ခန့်မှန်းဈေးနှုန်းအား အောက်ပါအတိုင်း တင်ပြထားပါသည်-

| | ထုတ်လုပ်မည့်ရေနံဓာတ်ငွေ့ရည် အမျိုးအစား | တစ်တန် ဈေးနှုန်း (ကျပ်) | ပျမ်းမျှတစ်နှစ်ထုတ်လုပ်မည့် အရေအတွက်(တန်ချိန်) |
|---|---|---|---|
| (က) | ပရိုပိန်း ဓာတ်ငွေ့ရည် | ၈၀၀,၀၀၀ | ၃၁၆၄.၆၈ |
| (ခ) | ဗြူတိန်း ဓာတ်ငွေ့ရည် | ၆၀၀,၀၀၀ | ၃၉၇၂.၇၀ |
| (ဂ) | နက်ဖ်သာ (ဓာတ်ဆီ) | ၄၁၁,၄၅၀ | ၂၉၂၄.၂၅ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ကုန်ကြမ်းအား မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းမှ ပထမသုံးနှစ်တာ ကာလအတွက် ထောက်ပံ့ပေးနိုင်မည်ဖြစ်ကြောင်းနှင့် ကုန်ချောဈေးနှုန်းများမှာ ကုန်ကြမ်းရရှိမှုနှင့် ကာလပေါက်ဈေးကို လိုက်ပြီး ပြောင်းလဲနိုင်၍ ခန့်မှန်းတွက်ချက်ထားခြင်း ဖြစ်ကြောင်းနှင့်ကုန်းတွင်းသဘာဝဓာတ်ငွေ့အာမခံချက်ရှိသော ပထမ(၃)နှစ်ခန့်နှင့် ကျန်(၇)နှစ်စာအတွက် ငှားရမ်းခနှင့်အကျိုးအမြတ်ခွဲဝေမှုတွင် ဌာနမှ ရရှိမှု (၅၁%) အား **ပူးတွဲ**ဖြင့် တင်ပြထားပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-က**ဖြင့် တင်ပြထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ရတနာစုကုမ္ပဏီလီမိတက်မှ ဒါရိုက်တာများ၏အမည်ဖြင့် ဧရာဝတီဘဏ်တွင် ၄-၇-၂၀၁၇ ရက်စွဲဖြင့် ၃၉၃,၆၂၇,၉၇၀.၃၆ ကျပ်ရှိကြောင်းနှင့် ရတနာစု ကုမ္ပဏီ လီမိတက်အမည်ဖြင့် ၂၇-၆-၂၀၁၇ ရက်နေ့တွင် ဧရာဝတီဘဏ်၌ ကျပ် ၃၀,၀၀၀,၀၀၀အား တင်ဒါအာမခံ (bid

security) အဖြစ် ၂၇-၆-၂၀၁၇ မှ ၂၆-၉-၂၀၁၇ အထိသက်တမ်းရှိကြောင်းအထောက်အထား၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုဆောင်ရွက်မည့် အစီအစဉ်၊ အလုပ်သမားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိရေးစီမံချက်နှင့် လုပ်ငန်းခွင် သာယာရေး ဆောင်ရွက်မည့် အစီအစဉ်များ တင်ပြထားပါသည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာ ကော်မတီ၏ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် အမှတ်စဉ် (၁၃/၂၀၁၇) အစည်းအဝေး မှ သဘောတူကြောင်း အကြောင်းကြားစာအား တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက် နေ့တွင် ထုတ်ပြန်ထားသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ဥပဒေပုဒ်မ ၃၆ (ဂ)နှင့်(ဃ)တွင် ပါဝင်သဖြင့် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာ (၁၃/၂၀၁၇)အရ ရေနံဓာတုပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်နေကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမိန့်ကြော်ငြာစာအမှတ် (၁၀/၂၀၁၇) အရ ဇုန် (၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသများစာရင်းတွင်ပါဝင်သဖြင့် ရင်းနှီးမြှုပ်နှံသူအား စီးပွား ဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း ၅ နှစ် အထိ ဝင်ငွေခွန်ကင်းလွတ် ခွင့်ပြုနိုင် ကြောင်း စိစစ် တွေ့ရှိရပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် ထုတ်ပြန်ထား သည့် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ အဆိုပြုလုပ်ငန်းသည် လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန၏ အတည်ပြုချက် ရယူဆောင်ရွက်ရမည့်လုပ်ငန်းများတွင် ပါဝင်နေသဖြင့် လျှပ်စစ် နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြထားကြောင်းစိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရတနာစု ကုမ္ပဏီလီမိတက်မှ မြန်မာ့ရေနံဓာတုဗေဒ လုပ်ငန်းပိုင် ရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့် ရေနံဓာတ်ငွေ့ရည် အရောင်းဆိုင်(၄)ဆိုင်တို့ကို ငှားရမ်းပြီး အကျိုးတူ ပူးပေါင်း၍ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(လက်မှတ်)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပူးတွဲ

ကုန်းတွင်းသဘာဝဓါတ်ငွေ့အာမခံချက်ရှိသော ပထမ(၃)နှစ်ခန့်နှင့် ကျန်(၇)နှစ်စာအတွက် တွက်ချက်မှုဇယား

| | ၂၀၁၆-၂၀၁၇ (ကျပ်သန်း) | ၂၀၁၇-၂၀၁၈ (ကျပ်သန်း) | ၂၀၁၈-၂၀၁၉ (ကျပ်သန်း) | ၂၀၁၉-၂၀၂၀ (ကျပ်သန်း) | ၂၀၂၀-၂၀၂၁ (ကျပ်သန်း) |
|---|---|---|---|---|---|
| (စ) ငှားရမ်းခ(၁)နှစ် | ၄၀၀.၀၀ | ၄၀၀.၀၀ | ၄၀၀.၀၀ | ၁၅၀.၀၀ | ၁၅၀.၀၀ |
| ဌာန ၅၁% အမြတ်ခွဲဝေမှု | ၈၆၈.၂၄ | ၈၈၁.၀၅ | ၈၉၁.၃၆ | ၇၅.၀၀ | ၁၄၀.၂၀ |
| ဌာနမှစုစုပေါင်းရရှိမှု | ၁၂၆၈.၂၄ | ၁၂၈၁.၀၅ | ၁၂၉၁.၃၆ | ၂၂၅.၀၀ | ၂၉၀.၂၀ |
| ကုမ္ပဏီ ၄၉% အမြတ်ခွဲဝေမှု | ၈၃၄.၂၀ | ၈၄၆.၅၀ | ၈၅၆.၄၁ | ၇၂.၀၀ | ၁၃၄.၈၀ |

မှတ်ချက် ။ကုန်းတွင်းသဘာဝဓါတ်ငွေ့ အာမခံချက်ရှိသည့် ပထမ(၃)နှစ်တွင် ဌာနမှ နက်ဖိသာ တစ်ဂါလံလျှင် ၂၀၀၀/- ကျပ်နှုန်းဖြင့် ဝယ်ယူပေးပါက ပိုမိုရရှိ လာမည့် အကျိုးအမြတ် (၆၄၇.၈၆၇) ကျပ်သန်း၏ ၅၁% ဖြစ်သော (၃၃၀.၄၁၂)ကျပ်သန်းကို ဌာနမှ နှစ်စဉ် ထပ်မံရရှိမည်ဖြစ်ပါသည်။

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရတနာစုကုမ္ပဏီလီမိတက်မှ မြန်မာ့ရေနံ ဓာတုဗေဒ လုပ်ငန်းနှင့် အကျိုးတူ ပူးပေါင်းကာ ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ရတနာစု ကုမ္ပဏီလီမိတက်<br>- ဦးရဲဝင်း (အဘ-ဦးချစ်ခင်) |
| | လုပ်ငန်းအမျိုးအစား | - ရေနံဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းပိုင်၊ မြန်မာ့ရေနံ ဓာတ်ငွေ့စက်ရုံ(ညောင်တုန်း)၊ အလုံအရောင်းဆိုင်၊ အင်းစိန် အရောင်းဆိုင်၊ မြောက်ဒဂုံအရောင်းဆိုင်၊ မှော်ဘီအရောင်းဆိုင် |
| | မြေငှားရမ်းခ | - ကျွန်းချောင်းရေနံ ဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံမြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ ဌာနပိုင်မြေနှင့်တကွရေနံဓာတ်ငွေ့ရည်စက်ရုံ(၂)ရုံနှင့်ရေနံ ဓာတ်ငွေ့ရည် အရောင်းဆိုင် (၄)ဆိုင်တို့ကို ငှားရမ်းခြင်း၊ စက်ရုံ လည်ပတ် ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေမှု သဘောတူစာချုပ်ပါအတိုင်းဖြစ်ပါသည်။ |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၃။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၃,၀၀၀.၀၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **စုစုပေါင်း**<br>**ကျပ်သန်း** |
| | ငွေသား | ၁,၀၀၀.၀၀ |
| | စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၂၀၀.၀၀ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၁,၃၀၀.၀၀ |
| | အခြား | ၅၀၀.၀၀ |
| | **စုစုပေါင်း** | **၃,၀၀၀.၀၀** |
| ၄။ | ဝန်ထမ်းအင်အား | - **၂၃၆ ဦး** |
| | ပြည်တွင်း | - ၂၃၆ ဦး အနိမ့်ဆုံးလစာ ကျပ် ၁၄၅,၀၀၀<br>အမြင့်ဆုံးလစာ ကျပ် ၄၃၀,၀၀၀ |
| ၅။ | ဝန်ဆောင်မှုပေးမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % |
| ၆။ | ပုံမှန်နှစ်(ဆဌမနှစ်)တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | - ကျပ် ၁၃,၅၀၀.၀၀ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၂,၉၈၅.၄၄ သန်း |
| | အသားတင်အမြတ် | - ကျပ် ၅၁၄.၅၆ သန်း |

| | | |
|---|---|---|
| ၇။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(ဆ၅မနှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၃၀၀.၀၁၅ သန်း<br>- ကျပ် ၆၇၅.၀၀၀ သန်း |
| ၈။ | ပထမနှစ်တွင်<br>ထုတ်ကုန်များ၏ ခန့်မှန်းရောင်းဈေး | - ပရိုပိန်း ဓာတ်ငွေ့ရည် တစ်တန်လျှင် ၈၀၀,၀၀၀ ကျပ်<br>- ဗြူတိန်း ဓာတ်ငွေ့ရည် တစ်တန်လျှင် ၆၀၀,၀၀၀ ကျပ်<br>- နက်ဖ်သာ (ဓာတ်ဆီ) တစ်တန်လျှင် ၄၁၁,၄၅၀ ကျပ်<br>- (ကုန်ကြမ်းအား မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းမှ ပထမ သုံးနှစ်တာကာလအတွက် ထောက်ပံ့ပေးနိုင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကုန်ချောဈေးနှုန်းများမှာ ကုန်ကြမ်းရရှိမှုနှင့် ကာလပေါက်ဈေးကိုလိုက်ပြီးပြောင်းလဲနိုင်၍ ခန့်မှန်းတွက်ချက်ထားခြင်းဖြစ်ကြောင်း သိရှိရပါ သည်။)<br>- ကုန်းတွင်းသဘာဝဓာတ်ငွေ့အာမခံချက်ရှိသော ပထမ(၃) နှစ်ခန့်နှင့် ကျန်(၇)နှစ်စာအတွက် မြေငှားရမ်းခနှင့် အကျိုးအမြတ်ခွဲဝေမှုအလိုက် ဌာနမှ ရရှိမှု (၅၁%) အား ပူးတွဲဖြင့် တင်ပြထားပါသည်။ |
| ၉။ | CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၁% နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် တစ်နှစ်ရရှိသော အသားတင်အမြတ်ငွေ၏ ၄% စုစုပေါင်း ၅%အထိ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |




ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၁၁/ MIC(OSS) /၀၁(၁၆၆/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရတနာစုကုမ္ပဏီလီမိတက်မှ ရေနံ၊ ဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၉-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ ခ-၀၀၅/၂၀၁၇ (၄၁၅)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရတနာစုကုမ္ပဏီလီမိတက်မှ မြန်မာရေနံဓာတုဗေဒလုပ်ငန်းပိုင် ရေနံဓာတ်ငွေ့ရည်စက်ရုံ (၂) ရုံနှင့်ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၄) ဆိုင်တို့ကိုငှားရမ်း၍ အကျိုးတူ ပူးပေါင်းကာ ရေနံဓာတ်ငွေ့ရည်ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၅) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းနှင့် ရတနာစုကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုထားသည့် ငှားရမ်းခြင်း၊ စက်ရုံလည်ပတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းနှင့် အမြတ်ခွဲဝေခြင်းဆိုင်ရာ သဘောတူစာချုပ်မူကြမ်း ဖော်ပြပါရှိကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း၊ ကျွန်းချောင်း ရေနံဓာတ်ငွေ့ရည်စက်ရုံကို ညောင်တုန်းရေနံဓာတ်ငွေ့ရည်စက်ရုံ မြေနေရာသို့ ပြောင်းရွှေ့တပ်ဆင်၍ဓာတ်ငွေ့စက်ရုံ (၂) ရုံလည်ပတ်ထုတ်လုပ်ကာ၊ ရန်ကုန်မြို့ရှိအလုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မြောက်ဒဂုံရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ မှော်ဘီရေနံဓာတ်ငွေ့ရည်အရောင်းဆိုင်၊ အင်းစိန်ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် စုစုပေါင်းစက်ရုံ (၂) ရုံနှင့်အရောင်းဆိုင် (၄) ဆိုင်တို့ကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် ဓာတ်ငွေ့ရည်ဖြန့်ဖြူးခြင်းအား မြန်မာရေနံဓာတုဗေဒလုပ်ငန်းပိုင်

ပိုက်လိုင်းများကိုပင် အသုံးပြုဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ အရေးပေါ် ဘေးအန္တရာယ်စီမံခန့်ခွဲရေး အစီအစဉ်၊ အရေးပေါ် ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၁%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ပြီး Water Treatment စနစ်တပ်ဆင်ခြင်း၊ Cryogenic Pump အသစ်လဲလှယ်ခြင်း၊ Safety equipments, QAQC Unit နှင့် Insulation များ တပ်ဆင်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) ရတနာစုကုမ္ပဏီလီမိတက်မှ ရေနံ၊ ဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် ဓာတ်ငွေ့စက်ရုံ တည်ဆောက်လည်ပတ်ခြင်း၊ ဓာတ်ငွေ့သိုလှောင်ကန်များတည်ဆောက်ခြင်း၊ ဓာတ်ငွေ့သယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ရာတွင် စွန့်ပစ်အရည်/ပစ္စည်းများနှင့်အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မတော်တဆ ဓာတ်ငွေ့ယိုစိမ့်မှုနှင့် ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ်နှင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) လုပ်ငန်းသုံး စက်၊ ယာဉ်ယန္တယားများနှင့် စက်သုံးဆီအညစ်အကြေး စွန့်ပစ်ပစ္စည်း၊ အရည်များကြောင့် ရေ/မြေ ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ပြီး စီမံကိန်းဧရိယာအနီးတဝိုက်ရှိ ပြည်သူတို့၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

(ဃ) အဆိုပြုလုပ်ငန်းမှ ရေနံ၊ ဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် ထုတ်လွှတ်အခိုးအငွေ့များထွက်ရှိခြင်းကြောင့် လေထုညစ်ညမ်းခြင်း၊ ဝန်ထမ်းများ၏အဆုတ်နှင့် အသက်ရှုလမ်းကြောင်းများ ထိခိုက်နိုင်ခြင်း၊ စက်သုံးဆီကန်များယိုစိမ့်မှုကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ ပြည်သူများကျန်းမာရေးထိခိုက်ခြင်းနှင့် မီးဘေး

အန္တရာယ်ဖြစ်စေနိုင်ခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရတနာစုကုမ္ပဏီလီမိတက်မှ ရေနံ၊ ဓာတ်ငွေ့ရည် ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီရန်ကုန်တိုင်းဒေသကြီးရှိ ရေနံဓာတ်ငွေ့ရည်စက်ရုံ (၂) ရုံ၊ ရေနံဓာတ်ငွေ့ရည်အရောင်းဆိုင် (၄) ဆိုင်နှင့် ဓာတ်ငွေ့ရည်ဖြန့်ဖြူးမည့် စနစ်တို့အားနေရာ (၁) ခုချင်းစီအလိုက် သီးခြားစီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသောနယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်

အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသ (၁) ခုချင်းစီတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ